ကန့်သတ်

ကုမ္ပဏီအမည် - Texchem Marine Labutta Limited

လုပ်ငန်း - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Marine Labutta Limited.မှ ရေထွက်ကုန်ပစ္စည်းများဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၁၁-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့ အကြောင်းကြားခြင်း | ၁၁-၁၁-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၆-၁၁-၂၀၁၅ | ၉-၁၂-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၆-၁၁-၂၀၁၅ | ၁-၁၂-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၆-၁၁-၂၀၁၅ | ၄-၁၂-၂၀၁၅ | |
| | (ဃ) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန | ၁၆-၁၁-၂၀၁၅ | ၃၀-၁၁-၂၀၁၅ | |
| ၄ | PAT တင်ပြခြင်း (၄၁/၂၀၁၅) | ၉-၁၁-၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၁-၁၁-၂၀၁၅ | | |
| ၆ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၂၁/၂၀၁၅) သို့ တင်ပြခြင်း | ၂၇-၁၁-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး သို့ တင်ပြခြင်း | | | ဆောင်ရွက် ဆဲ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၃-၁၂-၂၀၁၅ | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၁-၁၂-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၃၅ ရက်** | | |

၁။ ကုမ္ပဏီအမည် Texchem Marine Labutta Limited
၂။ အဖွဲ့အစည်းပုံသဏ္ဌာန် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီးစနစ်တကျပြုပြင် စီမံထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း
၄။ တည်နေရာ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ၁ရပ်ကွက်၊ သဇင်လမ်း၊မြေတိုင်းရပ်ကွက်အမှတ်-၅၇၉၊ကျောက်မှော်ရွာ၊ မြေကွက် အမှတ်-(C.2+3)
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၂.၀၀ သန်း
၆။ ရောင်းချမည့်စနစ် ပြည်ပပို့ ၇၀% နှင့် ပြည်တွင်းရောင်း ၃၀% ရောင်းချမည် ဖြစ်ပါသည်။
၇။ လုပ်ငန်းသက်တမ်း ၅၀ နှစ်
၈။ အရင်းကြေကာလ ၃ နှစ် ၈ လ
၉။ IRR ၂၂.၆၉%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဖော်ပြထားဖြင့် ပြုစု တင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၀.၉၆၂ | |
| ၄ | ဝင်ငွေခွန် | ၇၄၈.၄၂၅ | ၁၉၉.၃၇၈ |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၄၅၂၀.၄၀၅ |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၄၀)ဦး |
| ၇ | CSR (၂%) | | ၇၉.၁၇၇ |
| ၈ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၆၂၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၈၃၁.၅၄၇ | ၄၈၀၀.၁၂၅ |
| | Cost & Benefit | ၁:၆ | |

**အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Marine Labutta Limited မှ ရေထွက်ကုန်ပစ္စည်းများဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Texchem Marine Labutta Limited<br>- Mr. Fumihiko Konishi (ဂျပန်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>(၁) Mascot Industries Co., Ltd.(၅%)(မြန်မာနိုင်ငံ)<br>(၂) TexchemFoodSdn.Bhd.(၆၅%)(မလေးရှားနိုင်ငံ)<br>(၃) E-SprintCo.,Ltd.(၃၀%)(ဘရူနိုင်းဒါရူဆလမ်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ရေထွက်ကုန်ပစ္စည်းများဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း<br>- (Processing and Marketing of marine products such as soft shell crab, prawns and hamaguri) |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ၁ ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၅၇၉၊ ကျောက်မော်ရွာကွင်း၊ မြေကွက်အမှတ်-(C.2+C.3) |
| | မြေပိုင်ရှင် | - အဆောင်ကောင်းကုမ္ပဏီလီမိတက်(Mascot Industries Co.,Ltd. |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၃.၇၆၄ဧက (၁၅,၂၃၂.၃၈ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် ၁၉,၄၂၀,၂၈၄.၅၀ နှုန်း<br>(တစ်နှစ် တစ်စတုရန်း မီတာလျှင် ကျပ် ၁,၂၇၅ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် ( ၁၀ နှစ် သက်တမ်းတိုး ၂ ကြိမ်) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂.၀၀ သန်း |

| ထည့်ဝင်သည့်အမျိုးအစား | Local ( US$/သန်း) | Foreign (US$/သန်း) | Total (US$/သန်း) |
|---|---|---|---|
| ငွေသား | | ၀.၁၁၅ | ၀.၁၁၅ |
| စက်နှင့် စက်ပစ္စည်း(ပြည်ပဝယ်) | | ၁.၂၇၀ | ၁.၂၇၀ |
| ကုန်ကြမ်းပစ္စည်း | ၀.၁၀၀ | ၀.၅၀၀ | ၀.၆၀၀ |
| ပရိဘောဂနှင့် ရုံးသုံးပစ္စည်း | | ၀.၀၁၅ | ၀.၀၁၅ |
| **စုစုပေါင်း** | ၀.၁၀၀ | ၁.၉၀၀ | ၂.၀၀၀ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - **၆၄၀ ဦး** |
| | ပြည်တွင်း | - ၆၂၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၃၆၀,၀၀၀ ကျပ်) |
| | ပြည်ပ | - ၂၀ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၁၂၀၀ နှင့် အမြင့်ဆုံးလစာ US$ ၂၅၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပ ၇၀%<br>- ပြည်တွင်း ၃၀% |

| | | စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (USD/MT) |
|---|---|---|---|---|---|
| ၈။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်ပရောင်း ၇၀%) | ၁ | Soft Shell Crab VAP | | |
| | | | (က) VAP Soft Shell Crab | ၂၇၃.၃၇ | ၁၀,၅၀၀ |
| | | | (ခ) Small Cut Soft Shell Crab | ၁၇.၀၈ | ၁၁,၀၀၀ |
| | | | (ဂ) Breaded Soft Shell Crab | ၅၁.၂၆ | ၁၃,၀၀၀ |
| | | ၂ | Prawn | | |
| | | | (က) Head on Shell on prawn | ၁၆၆.၄၀ | ၇,၅၀၀ |
| | | | (ခ) Headless shell on prawn | ၁၇၈.၂၈ | ၁၀,၀၀၀ |
| | | | (ဂ) Peeled un-deveined prawn | ၃၇.၁၄ | ၈,၈၀၀ |
| | | | (ဃ) (PPV)Peeled Deveined Prawn | ၇၄.၂၈ | ၉,၈၀၀ |
| | | | (င) Sushi-Ebi | ၂၆.၇၄ | ၁၃,၅၀၀ |
| | | | (စ) Nobashi-Ebi | ၂၆.၇၄ | ၁၄,၀၀၀ |
| | | | (ဆ) Breaded Shrimp | ၁၇.၈၃ | ၁၄,၅၀၀ |
| | | ၃ | Hamaguri | | |
| | | | (က) Whole Round | ၇၄.၂၈ | ၂,၀၀၀ |
| | | | (ခ) Meat | ၁၁၁.၄၃ | ၃,၆၀၀ |
| ၉။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်တွင်းရောင်း ၃၀%) | စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (ကျပ်သိန်း/MT) |
| | | ၁ | Soft Shell Crab VAP | | |
| | | | (က) VAP Soft Shell Crab | ၁၁၇.၁၆ | ၁၃.၃၈၈ |
| | | | (ခ) Small Cut Soft Shell Crab | ၇.၃၂ | ၁၄.၀၂၅ |
| | | | (ဂ) Breaded Soft Shell Crab | ၂၀.၉၇ | ၁၆.၅၇၅ |
| | | ၂ | Prawn | | |
| | | | (က) Head on Shell on prawn | ၇၁.၃၀ | ၉.၅၆၃ |
| | | | (ခ) Headless shell on prawn | ၇၆.၄၁ | ၁၂.၇၅၀ |

| | | |
|---|---|---|
| | | (ဂ) Peeled un-deveined prawn ၁၅.၉၂ ၁၁.၂၂၀ |
| | | (ဃ) (PPV)Peeled Deveined Prawn ၃၁.၈၄ ၁၂.၄၉၅ |
| | | (င) Sushi-Ebi ၁၁.၄၆ ၁၇.၂၁၃ |
| | | (စ) Nobashi-Ebi ၁၁.၄၆ ၁၇.၈၅ |
| | | (ဆ) Breaded Shrimp ၇.၆၄ ၁၈.၄၈၈ |
| | | ၃ Hamaguri |
| | | (က) Whole Round ၃၁.၈၄ ၂.၅၅၀ |
| | | (ခ) Meat ၄၇.၇၅ ၄.၅၉၀ |
| ၁၀။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၁၃.၃၆၂၆ သန်း |
| | အသုံးစရိတ် | - US$ ၁၂.၉၈၇၂ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၀.၃၇၅၄ သန်း |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် ဝင်ငွေခွန် | - US$ ၀.၁၂၅၁ သန်း |
| | အရင်းကြေကာလ | - ၃ နှစ် ၈လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၂.၆၉ % |
| | CSR | - အသားတင်အမြတ်၏ ၂% ကို လျာထားသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂,၀၀၀,၀၀၀ kWh |
| ၁၃။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုနှင့်အညီ မီးလောင်မှု မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်ရေးအနေဖြင့် မီးသုံးစွဲမှု စစ်ဆေးခြင်း၊ သတိပေးနှိုးဆော်ခြင်း၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ဂါလံ ၆၅,၀၀၀ဆန့် ရေလောင်ကန်ထားရှိခြင်း၊ မီးကင်းချထားခြင်း၊ ဝန်ထမ်း များအား မီးဘေးတားဆီးရေးအဖွဲ့များ ဖွဲ့စည်း၍ တာဝန် ပေးခြင်း၊ လေ့ကျင့်ပေးခြင်း၊ ရေနှင့် မီးငြိမ်းသတ်ရေး ပစ္စည်းများလုံလောက်စွာထားရှိခြင်း၊ အရေးပေါ်အချက်ပေး စနစ်များတပ်ဆင်ခြင်း၊ မီးလောင်မှုဖြစ်ပွားပါက စနစ်တကျ မီးငြိမ်းသတ်ရေးစနစ်နှင့် ပြန်လည်ထူထောင်ရေး စနစ်များ စီစဉ်ထားကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၄။ | အခြားတင်ပြချက် | - Texchem Marine Labutta Limited ၏ MOA, AOA (မူကြမ်း) များတင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- Texchem Food Sdn.Bhd, E-Sprint Co., Ltd.နှင့် Mascot Industries Co.,Ltd တို့ ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်(မူကြမ်း)၊<br>- စွမ်းရည်ထက် ကုမ္ပဏီ လီမိတက် (T.Z.T.M Co., Ltd.) နှင့် Mascot Industries Co.,Ltd တို့ ချုပ်ဆိုထားသည့် မြေကွက်နှင့်မြေကွက်ပေါ်ရှိ အဆောက်အဦး အရောင်းအဝယ် စာချုပ်၊<br>- Mascot Industries Co.,Ltd နှင့် Texchem Marine Labutta Limited တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦး ငှားရမ်းသည့်စာချုပ် (မူကြမ်း)၊<br>- မလေးရှားနိုင်ငံရှိ Public Bank ၌ Texchem Food Sdn. Bhd. သည် (၃၁-၇-၂၀၁၅)ရက်နေ့တွင် A/C No. 3125890517 ၌ RM ၃၄,၀၅၀.၁၁ (US $ ၇,၉၈၇.၆၅) ရှိကြောင်း၊<br>- မလေးရှားနိုင်ငံရှိ OCBC Bank ၌ E-Sprint Co.,Ltd. သည် (၁-၈-၂၀၁၅) ရက်နေ့တွင် A/C No. 7311192073 ၌ RM ၂၃၃,၀၄၇.၆၆ (US $ ၅၄,၆၆၉.၅၇)ရှိကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်၌ Mascot Industries Co.,Ltd သည်(၁-၇-၂၀၁၅) ရက်နေ့တွင် US$ ၁၉၉,၉၅၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- Mascot Industries Co., Ltd ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ၊<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများလစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- စက်ရုံ၏ Layout Planကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၅။ | စိစစ်တင်ပြချက် | - Exchange Rate အနေဖြင့် 1 US$ =1275 Kyats ဖြင့် ဖော်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့လည်းကောင်း ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့လည်းကောင်း ဆက်လက်တင်ပြသွားမည် ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/ န-၁၃၈/၂၀၁၅( ၈၅၀ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Marine Labutta Limited မှ ရေထွက်ကုန်ပစ္စည်းများဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Mascot Industries Company Limited မှ ၅%၊ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd မှ ၆၅% နှင့် ဘရူနိုင်းဒါရူဆလမ်နိုင်ငံ E-Sprint Company Limited မှ ၃၀% ပါဝင်၍ မြန်မာနိုင်ငံတွင် Texchem Marine Labutta Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ၁ ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၅၇၉၊ကျောက်မော်ရွာကွင်း၊ မြေကွက်အမှတ်-(C.2+C.3) ရှိ စုစုပေါင်း မြေဧရိယာ ၃.၇၆၄ ဧက (၁၅,၂၃၂.၃၈ စတုရန်းမီတာ) ကို ငှားရမ်းကာ ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Mascot Industries Company Limited နှင့် မြေငှားသူ Texchem Marine Labutta Limited အကြားချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် Texchem Food Sdn. Bhd., E-Sprint Company Limited နှင့် Mascot Industries Company Limited တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၃.၇၆၄ ဧက (၁၅,၂၃၂.၃၈ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁,၂၇၅ နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် ၁၉,၄၂၀,၂၈၄.၅၀ နှုန်း ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး ၁၀ နှစ် နှစ်ကြိမ် သက်တမ်း တိုးမြှင့်ခွင့် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၂.၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | Local (US$/သန်း) | Foreign (US$/သန်း) | Total (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | | ၀.၁၁၅ | ၀.၁၁၅ |
| (ခ) | စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | | ၁.၂၇၀ | ၁.၂၇၀ |
| (ဂ) | ကုန်ကြမ်းပစ္စည်း | ၀.၁၀၀ | ၀.၅၀၀ | ၀.၆၀၀ |
| (ဃ) | ပရိဘောဂနှင့် ရုံးသုံးပစ္စည်း | | ၀.၀၁၅ | ၀.၀၁၅ |
| | **စုစုပေါင်း** | ၀.၁၀၀ | **၁.၉၀၀** | **၂.၀၀၀** |

* Exchange Rate အနေဖြင့် 1 US$ =1275 Kyats ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၆၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၃၆၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချပြီး ပြည်တွင်းတွင်လည်းရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ပြည်ပပို့ ၇၀%

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့်ဈေးနှုန်း (USD/MT) |
|---|---|---|---|
| ၁ | Soft Shell Crab VAP | | |
| | (က) VAP Soft Shell Crab | ၂၇၃.၃၇ | ၁၀,၅၀၀ |
| | (ခ) Small Cut Soft Shell Crab | ၁၇.၀၈ | ၁၁,၀၀၀ |
| | (ဂ) Breaded Soft Shell Crab | ၅၁.၂၆ | ၁၃,၀၀၀ |
| ၂ | Prawn | | |
| | (က) Head on Shell on prawn | ၁၆၆.၄၀ | ၇,၅၀၀ |
| | (ခ) Headless shell on prawn | ၁၇၈.၂၈ | ၁၀,၀၀၀ |
| | (ဂ) Peeled un-deveined prawn | ၃၇.၁၄ | ၈,၈၀၀ |
| | (ဃ) (PPV)Peeled Deveined Prawn | ၇၄.၂၈ | ၉,၈၀၀ |
| | (င) Sushi-Ebi | ၂၆.၇၄ | ၁၃,၅၀၀ |

| | | | |
|---|---|---|---|
| | (စ) Nobashi-Ebi | ၂၆.၇၄ | ၁၄,၀၀၀ |
| | (ဆ) Breaded Shrimp | ၁၇.၈၃ | ၁၄,၅၀၀ |
| ၃ | Hamaguri | | |
| | (က) Whole Round | ၇၄.၂၈ | ၂,၀၀၀ |
| | (ခ) Meat | ၁၁၁.၄၃ | ၃,၆၀၀ |

## (ခ) ပြည်တွင်းရောင်း ၃၀%

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (ကျပ်သိန်း/MT) |
|---|---|---|---|
| ၁ | Soft Shell Crab VAP | | |
| | (က) VAP Soft Shell Crab | ၁၁၇.၁၆ | ၁၃.၃၈၈ |
| | (ခ) Small Cut Soft Shell Crab | ၇.၃၂ | ၁၄.၀၂၅ |
| | (ဂ) Breaded Soft Shell Crab | ၂၁.၉၇ | ၁၆.၅၇၅ |
| ၂ | Prawn | | |
| | (က) Head on Shell on prawn | ၇၀.၃၀ | ၉.၅၆၃ |
| | (ခ) Headless shell on prawn | ၇၆.၄၀ | ၁၂.၇၅၀ |
| | (ဂ) Peeled un-deveined prawn | ၁၅.၉၂ | ၁၁.၂၂၀ |
| | (ဃ) (PPV)Peeled Deveined Prawn | ၃၀.၈၄ | ၁၂.၄၉၅ |
| | (င) Sushi-Ebi | ၁၁.၄၆ | ၁၇.၂၁၃ |
| | (စ) Nobashi-Ebi | ၁၁.၄၆ | ၁၇.၈၅ |
| | (ဆ) Breaded Shrimp | ၇.၆၄ | ၁၈.၄၈၈ |
| ၃ | Hamaguri | | |
| | (က) Whole Round | ၃၀.၈၄ | ၂.၅၅၀ |
| | (ခ) Meat | ၄၇.၇၅ | ၄.၅၉၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃.၃၆၂၆ |
| (ခ) | အသုံးစရိတ် | ၁၂.၉၈၇၂ |
| (ဂ) | အသားတင်အမြတ် | ၀.၃၇၅၄ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၁၂၅၁ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၃ နှစ်နှင့် ၈လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၂.၆၉% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်း မရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီး မြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ထောက်ခံပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန** မှ ငါးလုပ်ငန်း ဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည် ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် လုပ်ငန်းအစီအမံများ၊ စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း နည်းစနစ်များအသုံးပြုရန်၊ အဆိုပြုလွှာတွင်ပါဝင်သည့်

လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်း တို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) ကို ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် Mascot Industries Co., Ltd သည် ၁-၇-၂၀၁၅ ရက်နေ့တွင် US$ ၁၉၉,၉၅၀.၀၀ ရှိကြောင်း၊ မလေးရှားနိုင်ငံရှိ OCBC Bank တွင် E-Sprint Co.,Ltd. သည် ၁-၈-၂၀၁၅ ရက်နေ့တွင် RM ၂၃၃,၀၄၇.၆၆(US $ ၅၄,၆၆၉.၅၇) ရှိကြောင်း၊ မလေးရှားနိုင်ငံရှိ Public Bank တွင် Texchem Food Sdn. Bhd. သည် ၃၀-၇-၂၀၁၅ ရက်နေ့တွင် RM ၃၄,၀၅၀.၁၁ (US $ ၇,၉၈၇.၆၅) ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၂။ Texchem Marine Labutta Limited မှ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်မည့် အစီအစဉ် လုပ်ငန်း ခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက်စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၄၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စ အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့ လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့လည်းကောင်း ဆက်လက် တင်ပြသွားမည်ဖြစ်ပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံ Mascot Industries Company Limited မှ ၅%၊ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd မှ ၆၅% နှင့် ဘရူနိုင်းဒါရူဆလမ်နိုင်ငံ E-Sprint Company Limited မှ ၃၀% ပါဝင်၍ မြန်မာနိုင်ငံတွင် Texchem Marine Labutta Limited တည်ထောင်ကာ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ၁ ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၅၇၉၊ကျောက်မော်ရွာကွင်း၊ မြေကွက်အမှတ်-(C.2+C.3) ရှိ စုစုပေါင်း မြေဧရိယာ ၃.၇၆၄ ဧက (၁၅,၂၃၂.၃၈ စတုရန်းမီတာ) ကို ငှားရမ်းကာ ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

Texchem Marine Labutta Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Texchem Marine Labutta Limited | Texchem Food Sdn.Bhd<br>(Represented by ) | |
| | | (a) Mr. Fumihiko Konishi<br>Japanese<br>PPNo-TZ1067610<br>Director/ Executive Advisor | Villa Primavera 51 Jalan Jesselton 10450 Penang |
| | | (b) Mr. Brian Tan Guan Hooi<br>Malaysian<br>PPNo-A32878901<br>Director | 8 Pesiaran Bertam 6/1 Penang Golf Resort, Bertam 13200 Kepala Batas |
| | | (c) Mr. Goh Chin Meng<br>Malaysian<br>PPNo-A24634935<br>Director | 14 Lebuh Bukit Kecil Satu Taman Sir Nibong 11900 Bayan Lepas Pulau Pinang |
| | | E-Sprint Company Limited<br>(Represented by) | |
| | | (d) Mr. Ng Bak Kuang<br>Malaysian<br>PPNo-A27432700<br>Managing Director | 2668 Jalan Megat Harun Taman Keenways 14000 Bukit Mertajam Penang |
| | | Mascot Industries Company Limited<br>(Represented by) | |
| | | (e) U Maung Sitt@Chew Won Min<br>Myanmar<br>12/LaMaTa(N)016221<br>Director | No.22, Ground Floor, Nwethake Street,Ahlone Township,Yangon |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၅၁၂၃၅၃၅ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ် ၂၂၊ မြေညီထပ်၊ နွယ်သာဂီလမ်း၊ အလုံမြို့နယ်၊ ရန်ကုန် |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဦးမောင်စစ်၊ ဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀/၃ - ၁/အစိုးရ(ဧရာဝတီ)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ရက-၂/န-၁၃၈/၂၀၁၅ (၈၇၃)

၁။ မြန်မာနိုင်ငံ Mascot Industries Company Limited မှ (၅%)၊ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd မှ (၆၅%)နှင့် ဘရူနိုင်းဒါရူဆာလမ်နိုင်ငံ E-Sprint Company Limited မှ (၃၀%)အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Texchem Marine Labutta Limited တည်ထောင်၍ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ (၁)ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်၊ အမှတ်-၅၇၉၊ ကျောက်မော်ရွာ၊ ဦးပိုင်အမှတ်- (C.2+3) ရှိ စုစုပေါင်းမြေဧရိယာ ၃. ၇၆၄ဧက(၁၅၂၃၂. ၃၈၈တုရန်းမီတာ) ငှားရမ်း၍ ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျပြုပြင်စီမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား စိစစ်ပြီး သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ (၁)ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်၊ အမှတ်-၅၇၉၊ ကျောက်မော်ရွာ၊ ဦးပိုင်အမှတ်- (C.2+3 ) ရှိ စုစုပေါင်း မြေဧရိယာ ၃. ၇၆၄ဧက(၁၅၂၃၂. ၃၈၈တုရန်းမီတာ)သည် လက်ရှိမြို့ပြ စီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလို နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

DMZH/Letter

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ်

Texchem Marine Labutta Limited ၏ ယခုအဆိုပြုလာသည့် ရေထွက်ကုန်ပစ္စည်းများဝယ်ယူပြီး စနစ်တကျပြုပြင်စီမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ပေါ်ပေါက်လာပါက ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) ဖော်ပြပါမြေနေရာစက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ

အဆိုပြုလျှောက်ထားလာသည့်နေရာတွင် Texchem Marine Labutta Limited ၏ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာဟုတ်/မဟုတ်

အဆိုပြုတင်ပြထားသည့်မြေနေရာသည် ရွှေမြစ်ကမ်းဘေးတွင် တည်ရှိသောကြောင့် သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်ခြင်းမရှိသောကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်

တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင်အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် Texchem Marine Labutta Limited ၏ ရေထွက်ကုန် ပစ္စည်းများဝယ်ယူပြီး စနစ်တကျပြုပြင်စီမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့်လုပ်ငန်းဖြစ်ပါသဖြင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများအပေါ် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

( သိန်းအောင် )
ဝန်ကြီးချုပ်

မိတ္တူကို

Texchem Marine Labutta Limited

လှည့်လည်စာတွဲ

ရုံးလက်ခံ

D:MZH/Letter

ကန့်သတ်



နောက်ဆက်တွဲ- ခ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

VDY_5339
27.11.15

11C1 18/30/11

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၂၄၄၁ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆-၁၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/ န- ၁၃၈/ ၂၀၁၅(၈၇၅)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၂၄-၁၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ငလ/နပတ- ၅/ ၂၀၁၅ (၇၃၃၇)

၁။ မြန်မာနိုင်ငံ Mascot Industries Company Limited မှ (၅%)၊ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd မှ (၆၅%) နှင့် ဘရူနိုင်းဒါရူဆာလမ်နိုင်ငံ E-Sprint Company Limited မှ (၃၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Texchem Marine Labutta Limited တည်ထောင်၍ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ၁ ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၅၇၉၊ ကျောက်မော်ရွာ၊ ဦးပိုင်အမှတ် (C.2+3) ရှိ စုစုပေါင်းမြေဧရိယာ ၃.၇၆၄ ဧက (၁၅,၂၃၂.၃၈ စတုရန်းမီတာ) ငှားရမ်း၍ ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျပြုပြင်စီမံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Texchem Marine Labutta Limited. နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) **ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ/ မရှိ**

ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင် ပျမ်းမျှကဏန်းကုန်ကြမ်း (၂၀၀၀) တန်မှ ကုန်ချော (၁၄၆၂) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပြီး၊ တစ်ရက်လျှင် ကဏန်းကုန်ချော (Soft Shell Crab)(၄.၅) တန်ခန့် ထွက်ရှိနိုင်မည် ဖြစ်ပါသည်။

(ခ) **ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိ/ မရှိ**

ရေထွက်ပစ္စည်း (Soft Shell Crab) များ နိုင်ငံခြားတင်ပို့ရာတွင် တစ်တန်လျှင်

အမေရိကန်ဒေါ်လာ (၈၄၅၀) ရရှိနိုင်ပါသဖြင့်၊ တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချော (၁၄၆၂) တန်အတွက် အမေရိကန်ဒေါ်လာသန်း (၁၂.၃၅၃၉) ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

**(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ/ မရှိ**

စက်ရုံတွင် တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ Freezer ( 0.5 MT / bath x 5 Nos) တပ်ဆင်ထားပြီး၊ စက်၏ Capacity အရ အနည်းဆုံး Soft Shell Crab (2.5 MT မှ 20 MT အတွင်း ) ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ အဆိုပါစက်များ ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ (၄)ဦး အပါအဝင် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက် နိုင်ရန်အတွက် ဝန်ထမ်းစုစုပေါင်း (၆၄၀) ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

**(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိ/ မရှိ**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိချက်များအရ သိရှိရပါသည်။ ထို့အပြင် အဆိုပြုလွှာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကိုသန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်ရှင်းသောစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်များ တွေ့ရှိရပါသည်။

၃။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ ဖွံ့ဖြိုးရေးနှင့် သုတေသနဌာနခွဲ၊ ငါးလုပ်ငန်းစစ်ဆေးရေးနှင့် အရည်အသွေးထိန်းသိမ်းရေးဌာနစု၊ စက်ရုံစစ်ဆေးရေးနှင့် အသိအမှတ်ပြုလက်မှတ်ထုတ်ပေးရေးဌာနစိတ်အနေဖြင့် ပြည်ပပို့ကုန်ရေထွက်ပစ္စည်းများနှင့် လက်ခံစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများ၏ အရည်အသွေးနှင့် စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Texchem Marine Labutta Limited. သည် ရေထွက်ပစ္စည်း (Soft Shell Crab) ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျပြုပြင်စီမံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်

မည်ဆိုပါက မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) Texchem Marine Labutta Limited.

(၃) ရုံးလက်ခံ

(၄) မျှော

နောက်ဆက်တွဲ- ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MIC 1/12
NDY 5386
30.11.15

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၃၃၂၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆ - ၁၁ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၂ / န - ၁၃၈ / ၂၀၁၅ (၈၇၄)

၁။ မြန်မာနိုင်ငံ Mascot Industries Company Limited မှ (၅ %)၊ မလေးရှားနိုင်ငံ Texchem Food Sdn. Bhd မှ (၆၅ %) နှင့် ဘရူနိုင်း ဒါရူဆာလမ်နိုင်ငံ E-Sprint Company Limited မှ ( ၃၀ % ) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Texchem Marine Labutta Limited တည်ထောင်၍ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ ၁ ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ် - ၅၇၉၊ ကျောက်မော်ရွာ ဦးပိုင်အမှတ် - (C.2+3) ရှိ စုစုပေါင်း မြေဧရိယာ ၃.၇၆၄ ဧက ( ၁၅,၂၃၂.၃၈ စတုရန်းမီတာ ) ငှားရမ်း၍ ရေထွက်ကုန် ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စီမံကိန်းလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ခြင်းအားဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုများ အနေဖြင့် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း အစိုင်အခဲ၊ အရည်၊ အခိုးအငွေ့၊ အနံ့၊ ဆူညံမှု စသည်တို့အား စနစ်တကျ စီမံခန့်ခွဲရန် လိုအပ်ပြီး အဆိုပါ ထိခိုက်နိုင်မှုများအား စနစ်တကျ စီမံခန့်ခွဲမှု မပြုလုပ်ပါက ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေဆီလွှာ နှင့် အသံညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်၍ Texchem Marine Labutta Limited မှ ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်စီမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု စီမံကိန်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းအစီအမံများ၊ စက်ရုံ ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးစီမံချက်များ၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များပြည့်စုံစွာဖော်ပြပြီး








နောက်ဆက်တွဲ-ဃ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၂၉၇၀)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၁၁. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၃၈ / ၂၀၁၅ (၈၇၆)

၁။ Texchem Marine Labutta Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ (၁)ရပ်ကွက်၊ သဇင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၅၇၉)၊ ကျောက်မော်ရွာ၊ ဦးပိုင်အမှတ်(C.2+3)တွင် ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်မွမ်းမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်မွမ်းမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက် ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Texchem Marine Labutta Limited မှ ရေထွက်ကုန်ပစ္စည်းများ ဝယ်ယူပြီး စနစ်တကျ ပြုပြင်မွမ်းမံထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃. ၁၂. ၁၅

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန